


Form (2)

The Myanmar Investment Commission




# PERMIT

Permit No. 457/2011 Date 4th FEBRUARY, 2011

The Myanmar Investment Commission issues this Permit under Section 10 of the Union of Myanmar Foreign Investment Law-

(a) Name of Promoter MR. TAN GHEE KIAT

(b) Citizenship MALAYSIAN

(c) Address NO.7, LORONG TEMPINIS KANAN DUA, LUCKY GARDEN BANGSAR, 59100 K.UALA LUMPUR, MALAYSIA

(d) Name and Address of principal organization PRESTIGE PLATFORM SDN.BHD. SUITE16-08, LEVEL 16, WISMA UOA II, 21, JALAN PINANG 50450 KUALA LUMPUR, MALAYSIA

(e) Place of incorporation KUALA LUMPUR, MALAYSIA

(f) Type of business in which investment is to be made OIL PALM PLANTATION AND PALM OIL MILL

(g) Place(s) at which investment is permitted KAWET- KAWTMAPYIN AREA, TANINTHARYI TOWNSHIP, MYEIK DISTRICT, TANINTHARYI REGION

(h) Amount of foreign capital US $ 36.75 MILLION

(i) Period for bringing in foreign capital 5 YEARS (YEAR 2011 TILL 2015)

(j) Total amount of capital (Kyat) EQUIVALENT IN KYAT OF US $ 36.75 MILLION

(k) Permitted duration of investment 30 YEARS

(l) Name of the economic organization to be formed in Myanmar MYANMAR STARK PRESTIGE PLANTATION CO.,LTD.

Chairman

The Myanmar Investment Commission




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၄၅၇ / ၂၀၁၁ ၂၀၁၁ခုနှစ်ဖေဖော်ဝါရီလ ၂၂ ရက်

ပြည်ထောင်စု မြန်မာနိုင်ငံတော် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ (၁၀) အရ ဤခွင့်ပြုမိန့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်က ထုတ်ပေးလိုက်သည်-

(က) ကမကထပြုသူ၏အမည် MR. TAN GHEE KIAT

(ခ) မည်သည့် နိုင်ငံသား MALAYSIAN

(ဂ) နေရပ်လိပ်စာ NO.7, LORONG TEMPINIS KANAN DUA, LUCKY GARDEN BANGSAR, 59100 KUALA LUMPUR, MALAYSIA.

(ဃ) ပင်မအဖွဲ့အစည်းအမည်နှင့် လိပ်စာ PRESTIGE PLATFORM SDN. BHD. SUITE16-08, LEVEL 16, WISMA UOA II, 21, JALAN PINANG 50450 KUALA LUMPUR , MALAYSIA

(င) ဖွဲ့စည်းရာအရပ် KUALA LUMPUR, MALAYSIA.

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား ဆီအုန်းစိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်ခွင့်ပြုသည့်အရပ်ဒေသ(များ) ၁၀၀၀ ဧက - ကော့မပြင်းဒေသ၊ တနင်္သာရီမြို့နယ်၊ မြိတ်ခရိုင်၊ တနင်္သာရီတိုင်းဒေသကြီး

(ဇ) နိုင်ငံခြားမတည်ငွေရင်း အမေရိကန်ဒေါ်လာ ၃၆.၇၅ သန်း

(ဈ) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ ၅ နှစ် (၂၀၁၁ ခုနှစ်မှ ၂၀၁၅ ခုနှစ်အတွင်း )

(ည) စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်) အမေရိကန်ဒေါ်လာ ၃၆.၇၅ သန်း နှင့် ညီမျှသော မြန်မာကျပ်ငွေ

(ဋ) ရင်းနှီးမြှုပ်နှံခွင့်ပြုသည့် သက်တမ်း ၃၀ နှစ်

(ဌ) မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် စီးပွားရေး အဖွဲ့အစည်းအမည် MYANMAR STARK PRESTIGE PLANTATION CO.,LTD.

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်



# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
# လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ၁၁/ MSPP( ၉၇၂ /၂၀၁၀)
ရက်စွဲ၊ ၂၀၁၀ ပြည့်နှစ်၊ ဒီဇင်ဘာလ ၃၁ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြသည့်အမှာစာ

အကြောင်းအရာ။ မလေးရှားနိုင်ငံ Prestige Platform Sdn Bhd နှင့် မြန်မာနိုင်ငံ၊ Stark Industries Co., Ltd. တို့ ပူးပေါင်း၍ Myanmar Stark Prestige Plantation Co., Ltd. (MSPP) ဖက်စပ်ကုမ္ပဏီဖွဲ့စည်းကာ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ် ကဝက်-ကော့မပြင်းဒေသတွင် ဆီအုန်း(၃၈,၀၀၀) ဧက စိုက်ပျိုးရန် အဆိုပြုလွှာတင်ပြခြင်းကိစ္စ။

**နိဒါန်း**

၁။ မြန်မာနိုင်ငံသားကုမ္ပဏီဖြစ်သည့် Stark Industries Co., Ltd. သည် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ ကဝက်-ကော့မပြင်းဒေသရှိ မြေဧက (၃၈,၀၀၀) ၌ ဆီအုန်း စိုက်ပျိုး ထုတ်လုပ်ရေးလုပ်ငန်းအား အကောင်အထည်ဖော် ဆောင်ရွက်ရန်အတွက် မြန်မာကုမ္ပဏီနှင့် မလေးရှားနိုင်ငံ၊ Prestige Platform Sdn., Bhd. တို့သည် အစုရှယ်ယာ (၂၀း၈၀) ရင်းနှီးမြှုပ်နှံမှု အချိုးဖြင့် ပူးပေါင်း၍ Myanmar Stark Prestige Plantation Co., Ltd. (MSPP) ဖက်စပ်ကုမ္ပဏီအား တည်ထောင်ကာ ဆီအုန်းစိုက်ပျိုးခြင်းနှင့် စားအုန်းဆီ ထုတ်လုပ်ခြင်းလုပ်ငန်းများကို နိုင်ငံတော်နှင့် Product Sharing စနစ်ဖြင့် ဆောင်ရွက်ရန်စီစဉ်လျှက်ရှိပါသည်။

၂။ မြန်မာကုမ္ပဏီနှင့် ဖက်စပ် ဆောင်ရွက်မည့် မလေးရှားနိုင်ငံ Prestige Plantation Sdn., Bhd ကုမ္ပဏီသည် မလေးရှားနိုင်ငံရှိ ဆီအုန်း စိုက်ပျိုးရေးနှင့် စားအုန်းဆီ ထုတ်လုပ်ရေးလုပ်ငန်းကိုအဓိကလုပ်ကိုင်သည့် Glenealy Plantation (Malaya) Bhd. ကုမ္ပဏီကြီး အောက်မှ Investment Holding အဖြစ် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများ လုပ်ကိုင်နိုင်ရန် သီးခြားတည်ထောင်ထားသည့်ကုမ္ပဏီတစ်ခုဖြစ်ပါသည်။ Glenealy Plantation (Malaya) Bhd. ကုမ္ပဏီသည် နှစ်ပေါင်း (၅၀)ကျော်သက်တမ်းရှိ၍ စျေးကွက် ရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ (၅၈၂.၆) သန်း ရှိသည့် ခိုင်မာသော ကုမ္ပဏီကြီး တစ်ခု ဖြစ်ကြောင်း မလေးရှားနိုင်ငံဆိုင်ရာ မြန်မာသံရုံးမှ တင်ပြထားပါသည်။

ရည်ရွယ်ချက်

၃။ အဆိုပါ Myanmar Stark Prestige Plantation Co., Ltd. (MSPP) ဖက်စပ်ကုမ္ပဏီ အနေဖြင့် ဖော်ပြပါစီမံကိန်းမှ စိုက်ပျိုး ထွက်ရှိလာမည့် စားအုန်းဆီကြမ်းနှင့် ဆီသန့်များကို ပြည်တွင်းပြည်ပဈေးကွက်များသို့ ဖြန့်ဖြူးရောင်းချခြင်းဖြင့် နိုင်ငံတော်၏ စားသုံးဆီလိုအပ်ချက်ကို ဖြည့်ဆည်းပေးမည့်အပြင် ဒေသခံ ပြည်သူလူထုများအတွက် အလုပ်အကိုင်အခွင့်အလမ်းများပိုမို ရရှိလာစေရန်ရည်ရွယ်ဆောင်ရွက်ခြင်းဖြစ်ပါသည်။

ရင်းနှီးမြှုပ်နှံမှုပုံစံနှင့်ပမာဏ

၄။ နိုင်ငံခြားဖက်စပ်ရင်းနှီးမြှုပ်နှံမှု ပုံစံဖြင့်ဆောင်ရွက်မည်ဖြစ်ပြီး စီမံကိန်း ဧရိယာ (၃၈,၀၀၀)ဧက အနက် အသားတင် ဆီအုန်းစိုက်ဧက(၂၅,၀၀၀)အတွက် စီမံကိန်း၏ ကနဦး ရင်းနှီးမြှုပ်နှံမှု (Initial Investment) မှာ အမေရိ ကန်ဒေါ်လာ (၃၆.၇၅)သန်းဖြစ်ပါသည်။ (တစ်နာရီတန် (၆၀)ကျ ဆီကြမ်းစက်ရုံ CPO Mill အတွက် ရင်းနှီးမြှုပ်နှံမှု တန်ဖိုးငွေ အမေရိကန်ဒေါ်လာ (၆) သန်းအပါအဝင် ဖြစ်ပါသည်။)

ရင်းနှီးမြှုပ်နှံဆောင်ရွက်မည့်ကာလ

၅။ စီမံကိန်း၏ ကနဦးသက်တမ်းကာလမှာ (၃၄) နှစ်ဖြစ်ပြီး၊ နှစ်ဖက်သဘောတူညီချက်ဖြင့် နောက်ထပ် (၂၆) နှစ်သက်တမ်းတိုးဆောင်ရွက်မည်ဖြစ်ပါသည်။

မြေယာဖော်ထုတ်စိုက်ပျိုးမည့်အစီအစဉ်

၆။ (က) Myanmar Stark Prestige Plantation Co., Ltd. (MSPP) ဖက်စပ်ကုမ္ပဏီသည် အဆိုပါ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ ကဝက်-ကော့ မပြင်းဒေသရှိ မြေဧရိယာ ဧက (၃၈,၀၀၀) အနက် ဆီအုန်းစိုက်ပျိုးနိုင်မည့် မြေဧရိယာ ဧက (၂၅,၀၀၀) ကို အောက်ပါ အတိုင်း နှစ်အလိုက်ဖော် ထုတ် စိုက်ပျိုး သွားရန် စီစဉ်ထားပါသည်-

| နှစ် | ဖော်ထုတ်စိုက်ပျိုးမည့် ဧရိယာ |
|---|---|
| ပထမနှစ် | ၅၀၀ ဧက |
| ဒုတိယနှစ် | ၃,၀၀၀ ဧက |
| တတိယနှစ် | ၅,၀၀၀ ဧက |
| စတုတ္ထနှစ် | ၁၀,၀၀၀ ဧက |
| ပဉ္စမနှစ် | ၆,၅၀၀ ဧက |
| စုစုပေါင်း (၅) နှစ် | ၂၅,၀၀၀ ဧက |

(ခ) တစ်နာရီတန်(၆၀)ကျ ဆီသန့်စက်ရုံကို တတိယနှစ်တွင် စတင်တည်ဆောက်ကာ စတုတ္ထနှစ်တွင် ဆီကြမ်း (CPO) စတင် ထုတ်လုပ်ရန် ရည်ရွယ်ထားပါသည်။

## ကနဦးရင်းနှီးမြှုပ်နှံမည့် အစီအစဉ်

၇။ Myanmar Stark Prestige Plantation Co., Ltd. (MSPP) ဖက်စပ်ကုမ္ပဏီ အနေဖြင့် အဆိုပါ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ ကဝက်-ကော့မပြင်းဒေသတွင် ဖော်ပြပါ လုပ်ငန်းများကို ကနဦးရင်းနှီးမြှုပ်နှံမှု ပမာဏ အမေရိကန်ဒေါ်လာ (၃၆.၇၅)သန်းကို ဆီအုန်းစိုက်ပျိုးကာလ (၅)နှစ်အတွင်း အောက်ပါအတိုင်း ရင်းနှီးမြှုပ်နှံဆောင်ရွက်သွားမည်ဖြစ်ပါသည်။

| စဉ် | အကြောင်းအရာ | အမေရိကန် ဒေါ်လာ | ညီမျှသည့် မြန်မာကျပ် |
|---|---|---|---|
| (က) | နိုင်ငံခြားငွေ | ၆,၆၀၀,၀၀၀ | ၃၉,၆၀၀,၀၀၀ |
| (ခ) | စက်ပစ္စည်းကိရိယာများ တင်သွင်းခြင်း | ၁၂,၄၄၀,၀၀၀ | ၇၄,၆၄၀,၀၀၀ |
| (ဂ) | ကုန်ကြမ်းပစ္စည်းနှင့်အခြား ဆက်စပ်ပစ္စည်းများ | ၁၅,၁၁၀,၀၀၀ | ၉၀,၆၆၀,၀၀၀ |
| (ဃ) | ကျွမ်းကျင်မှုနည်းပညာ | ၂,၆၀၀,၀၀၀ | ၁၅,၆၀၀,၀၀၀ |
| | စုစုပေါင်း | ၃၆,၇၅၀,၀၀၀ | ၂၂၀,၅၀၀,၀၀၀ |

## ထွက်ကုန်အပေါ် အကျိုးအမြတ်ခွဲဝေမှုစနစ် (Product Sharing System)

၈။ Myanmar Stark Prestige Plantation Co., Ltd. (MSPP) ဖက်စပ်ကုမ္ပဏီသည် ယခုထွက်ရှိလာမည့် စားအုန်းဆီကြမ်းနှင့်ဆီချောများကို နိုင်ငံတော်ကိုယ်စား မြေရှင်အဖြစ် ဆောင်ရွက်မည့် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန(နှစ်ရှည်ပင်လုပ်ငန်း)သို့ ဆီသီးခိုင်စတင် ထွက်ရှိလာသည်မှစ၍ အောက်ပါအစီအစဉ်အတိုင်း ခွဲဝေပေးရန်ဖြစ်ပါသည်-

| စဉ် | ကာလ | ထွက်ရှိမှုအပေါ် ပေးရန် အချိုး | ရရှိနိုင်မည့် မျှော်မှန်း ထွက်ကုန် ပမာဏ (တန်) |
|---|---|---|---|
| (က) | ဆီသီးခိုင်ထွက်ရှိလာချိန်မှ(၁၀)နှစ်ထိ | (၂.၅%) | ဆီကြမ်း (၃,၇၀၈) |
| (ခ) | (၁၁)နှစ်မှ (၁၄)နှစ်ထိ | (၅%) | ဆီကြမ်း (၁၀,၀၁၅) |
| (ဂ) | (၁၅)နှစ်မှ(၁၈)နှစ်ထိ | (၇%) | ဆီကြမ်း (၁၆,၁၅၆) (သို့မဟုတ်) ဆီချော (၁၂,၁၁၇) |
| (ဃ) | (၁၉)နှစ်မှ(၂၂)နှစ်အထိ | (၅%) | ဆီကြမ်း (၁၁,၃၈၀) (သို့မဟုတ်) ဆီချော (၈,၅၃၅) |

(င) (၂၃)နှစ်မှစ၍နောက်ပိုင်း (၂.၅%) ဆီကြမ်း (၁၁,၉၅၀) (သို့မဟုတ်) ဆီချော (၈,၉၆၃)

၉။ အထက်ပါအတိုင်း ထွက်ကုန်အပေါ် အကျိုးအမြတ်ခွဲဝေမှုစနစ်ဖြင့် ဆောင်ရွက်ရန်အတွက် မြေရှင်အဖြစ် ဆောင်ရွက်မည့် လယ်ယာ စိုက်ပျိုးရေးနှင့်ဆည်မြောင်း ဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊ နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန (နှစ်ရှည်ပင်လုပ်ငန်း) နှင့် Myanmar Stark Prestige Plantation Co., Ltd. (MSPP) ဖက်စပ်ကုမ္ပဏီတို့ အကြားချုပ်ဆိုမည့် Product Sharing Agreement သဘောတူစာချုပ် (မူကြမ်း) အပေါ် ရှေ့နေချုပ်ရုံး၊ နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာနနှင့် ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာနတို့၏ သဘောထားမှတ်ချက်များ (<u>**နောက်ဆက်တွဲ-က**</u>) နှင့်အညီ ပြင်ဆင်ရေးဆွဲထားသည့် စာချုပ် (မူကြမ်း) အား (<u>**နောက်ဆက်တွဲ-ခ**</u>) ဖြင့် တင်ပြအပ်ပါသည်။

<u>**နိုင်ငံတော်အတွက် ရရှိမည့် အကျိုးကျေးဇူးများ**</u>

၁၀။ Myanmar Stark Prestige Plantation Co., Ltd. (MSPP) ဖက်စပ်ကုမ္ပဏီသည် Product Sharing စနစ်ဖြင့် မြန်မာနိုင်ငံတွင် ဆီအုန်းစိုက်ပျိုးထုတ်လုပ်သည့် လုပ်ငန်းကို (၃၄)နှစ်ကြာရင်းနှီး မြှုပ်နှံဆောင်ရွက်ခြင်းအားဖြင့် နိုင်ငံတော်မှ စီမံကိန်းကာလအတွင်း အမေရိကန်ဒေါ်လာ (၂၆.၆)သန်းခန့် ရရှိနိုင်မည်ဖြစ်သည့်အပြင် အကြမ်းဖျင်း တွက်ချက်မှုအရ ကုန်သွယ်လုပ်ငန်းခွန်နှင့်ဝင်ငွေခွန် စုစုပေါင်း အမေရိကန်ဒေါ်လာ(၁၇၅)သန်းခန့် ရရှိနိုင်မည်ဖြစ်ခြင်း၊ နိုင်ငံတော်၏ ပြည်တွင်းဆီဖူလုံရေးကို တစ်ဖက်တစ်လမ်းမှ ဖြည့်ဆည်းပေးနိုင်ခြင်း၊ မြန်မာနိုင်ငံအတွင်းသို့ ပြည်ပမှ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဝင်ရောက်လာခြင်း၊ ဆီအုန်းစိုက်ပျိုးထုတ်လုပ်မှု နည်းပညာဆိုင်ရာ ကျွမ်းကျင်မှုများရရှိ လာနိုင်ခြင်းတို့အပြင် ဒေသခံပြည်သူများအတွက် အလုပ်အကိုင် အခွင့်အလမ်းများပေါ်ပေါက်လာနိုင်ခြင်းစသည့် အကျိုးကျေးဇူးများရရှိနိုင်မည်ဖြစ်ပါသည်။

<u>**ဆုံးဖြတ်ရန်အချက်။**</u>

၁၁။ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ ကဝက်-ကော့မပြင်းဒေသရှိ မြေဧရိယာဧက (၃၈,၀၀၀) ၌ ဆီအုန်းစိုက်ပျိုးနိုင်မည့် ဧက (၂၅,၀၀၀) ကို Myanmar Stark Prestige Plantation Co., Ltd. (MSPP) ဖက်စပ်ကုမ္ပဏီနှင့် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊ နှစ်ရှည်ပင်နှင့် စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန (နှစ်ရှည်ပင်လုပ်ငန်း) တို့အကြား ဆီအုန်းစိုက်ပျိုး၍ စားအုန်းဆီ ထုတ်လုပ်ခြင်းလုပ်ငန်းကို Product Sharing စနစ်အရ နိုင်ငံခြားဖက်စပ်ရင်းနှီးမြှုပ်နှံမှုပုံစံဖြင့် ဆောင်ရွက်ရန်တင်ပြသည့်ကိစ္စအား သဘောတူ/မတူ။

လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏ထောက်ခံချက်။

၁၂။ အထက်အပိုဒ် ၁၁။ ပါ အဆိုပြု တင်ပြချက်ကို သဘောတူ သင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( ဌေးဦး )
ဝန်ကြီး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။